ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ရက - ၅(အ)/၀၁၃/၂၀၁၅ ( ၂၈၃ )

ရက်စွဲ၊ ၂၀၁၅ခုနှစ် စက်တင်ဘာလ ၈ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံထွက်ပစ္စည်း ရောင်းဝယ်ရေးလုပ်ငန်းနှင့် စင်ကာပူနိုင်ငံ Puma Energy Group Pte. Ltd. တို့သည် မြန်မာနိုင်ငံတွင် National Energy Puma Aviation Services Co., Ltd. တည်ထောင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် လေယာဉ်ဆီတင်သွင်း၊ သိုလှောင်၊ ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့်(ယာယီ) ထုတ်ပေးပါရန် တင်ပြခြင်းကိစ္စ**

၁။ စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံထွက်ပစ္စည်း ရောင်းဝယ်ရေးလုပ်ငန်းနှင့် စင်ကာပူနိုင်ငံ Puma Energy Group Pte. Ltd. တို့သည် မြန်မာနိုင်ငံတွင် National Energy Puma Aviation Services Co., Ltd. တည်ထောင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် စွမ်းအင်ဝန်ကြီးဌာနပိုင် သန်လျင်မြို့နယ်၊ အမှတ်(၁) သန်လျင်ရေနံချက်စက်ရုံ၊ ပို့ဆောင်ရေးဝန်ကြီးဌာနပိုင် မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်အပြည်ပြည်ဆိုင်ရာလေဆိပ်ဝင်းအတွင်းနှင့် ကာကွယ်ရေးဝန်ကြီးဌာနပိုင် မင်္ဂလာဒုံမြို့နယ်၊ လေတပ် အခြေစိုက်စခန်း (မင်္ဂလာဒုံ) အဝင်လမ်းနှင့် ကြံခင်းစုလမ်းထောင့်တို့တွင် လေယာဉ်ဆီ တင်သွင်း၊ သိုလှောင်၊ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် စွမ်းအင်ဝန်ကြီးဌာန မှ ၂၀၁၅ ခုနှစ် ဇူလိုင်လ ၂၄ ရက်နေ့ ရက်စွဲပါစာဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလာပါသည်။

၂။ အဆိုပြုချက် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ ၂၀၁၅ ခုနှစ်၊ ဩဂုတ်လ ၁၀ ရက်နေ့တွင် ကျင်းပသော (၂၈/၂၀၁၅) ကြိမ်မြောက် အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့ တင်ပြဆွေးနွေးခဲ့ပြီးဖြစ်ပါသည်။ အစည်းအဝေးမှ "လုပ်ငန်းဆောင်ရွက်မည့် မြေနေရာများအတွက် သက်ဆိုင်ရာဝန်ကြီးဌာနများမှ အကြောင်းပြန်ကြားစာကိုရရှိပြီးမှ ဆက်လက်ဆောင်ရွက်ရန်" ဆုံးဖြတ်ခဲ့ပါသည်။

**နောက်ဆက်တွဲ-က**

၃။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အား ၂၀၁၅ ခုနှစ် ဩဂုတ်လ ၂၀ ရက်နေ့ ရက်စွဲဖြင့် အကြောင်းကြားပြီးဖြစ်ပါသည်။ လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ခွင့်နှင့်စပ်လျဉ်း၍ ကာကွယ်ရေးဝန်ကြီးဌာန၊ ပို့ဆောင်ရေးဝန်ကြီးဌာန၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနနှင့် ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ တို့သို့ ၂၀၁၅ခုနှစ် စက်တင်ဘာလ ၁ ရက်နေ့ ရက်စွဲဖြင့် သဘောထား မှတ်ချက်များ တောင်းခံထားပြီးဖြစ်ပါသည်။ စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံနှင့် သဘာဝဓာတ်ငွေ့လုပ်ငန်းမှ တဆင့်

လိုအပ်ချက်များ ပြင်ဆင်ပြီး ထပ်မံတင်ပြလာခြင်း မရှိသေးပါ။ သက်ဆိုင်ရာဌာနများမှလည်း သဘောထားမှတ်ချက်များ ပြန်ကြားလာခြင်းမရှိသေးပါ။

၄။ အဆိုပြုလုပ်ငန်း၏ လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) စွမ်းအင်ဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီးရုံးမှ မြန်မာ နိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့် အမှာစာ၊ နိုင်ငံတော်သမ္မတရုံးစာ၊ ၂၀၁၅ ခုနှစ် ဇွန်လ ၁၁ ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုအစိုးရအဖွဲ့၏ (၁၁-၆-၂၀၁၅) ရက်နေ့တွင် ကျင်းပပြုလုပ်သော ၁၂/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးဆုံးဖြတ်ချက်မှတ်တမ်း၊ Puma Energy Group Pte. Ltd. နှင့် Myanmar Petroleum Products Enterprise (Ministry of Energy) တို့ ချုပ်ဆိုထားသည့် ဖက်စပ်လုပ်ငန်းသဘောတူစာချုပ် (မူကြမ်း) (မြန်မာ+အင်္ဂလိပ်) နှင့် အဆိုပါစာချုပ်အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံး၊ ပြည်ထောင်စုစာရင်းစစ်ချုပ်ရုံး၊ အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန၊ ဘဏ္ဍာရေးဝန်ကြီးဌာနတို့၏ သဘောထားမှတ်ချက်များရရှိပြီးဖြစ်ပါသည်။

(ခ) စွမ်းအင်ဝန်ကြီးဌာနအနေဖြင့် ပို့ဆောင်ရေးဝန်ကြီးဌာနပိုင် မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်အပြည်ပြည်ဆိုင်ရာ လေဆိပ်ဝင်းအတွင်းနှင့် ကာကွယ်ရေးဝန်ကြီးဌာနပိုင် မင်္ဂလာဒုံမြို့နယ်၊ လေတပ်အခြေစိုက်စခန်း (မင်္ဂလာဒုံ) အဝင်လမ်းနှင့် ကြံခင်းစုလမ်းထောင့်တို့တွင် လုပ်ကိုင်မည့် မြေနေရာများအတွက် မြေငှားစာချုပ် (မူကြမ်း)များ ရရှိပါကပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ သဘောထားမှတ်ချက်များ တောင်းခံ၍ အဆိုပါ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရန်လိုပါသည်။ ဖက်စပ်စာချုပ် (မူကြမ်း)အားလည်း ပြည်ထောင်စုရှေ့နေချုပ်ရုံးနှင့်ပြည်ထောင်စုစာရင်းစစ်ချုပ်ရုံးတို့၏ သဘောထားမှတ်ချက်နှင့် အညီပြင်ဆင်ချုပ်ဆိုရန်လိုပါသည်။

(ဂ) National Energy Puma Aviation Services Co., Ltd. ၏ အဆိုပြုလုပ်ငန်းအားအဆင့်အလိုက်လုပ်ကိုင် ဆောင်ရွက်မည်ဖြစ်ပြီး စုစုပေါင်းရင်းနှီးမြှုပ်နှံမှုပမာဏအမေရိကန်ဒေါ်လာ ၁၀၆.၀၂ သန်း တွင် ဖက်စပ်ကုမ္ပဏီမှ ချေးငွေအမေရိကန်ဒေါ်လာ ၅၅ သန်း ပါဝင်ပြီး အဆိုပါချေးငွေကို ၂၀၁၈ ခုနှစ် ဒုတိယအဆင့် လုပ်ငန်းဆောင်ရွက်သည့်အခါမှသာ သုံးစွဲမည်ဖြစ်ပါကြောင်း၊ ဝန်ထမ်းခန့်ထားရာ၌ ပြည်တွင်းဝန်ထမ်း (၉၅)ဦးနှင့် ပြည်ပဝန်ထမ်း(၁)ဦး၊ စုစုပေါင်း ဝန်ထမ်း (၉၆) ဦး ခန့်ထားမည်ဖြစ်ကြောင်း၊ လုပ်ငန်းသက်တမ်းမှာ (၃၀)နှစ် ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

**ဆုံးဖြတ်ရန်အချက်**

၅။ သို့ဖြစ်ပါ၍ စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံထွက်ပစ္စည်း ရောင်းဝယ်ရေးလုပ်ငန်းနှင့် စင်ကာပူနိုင်ငံ Puma Energy Group Pte. Ltd. တို့သည် မြန်မာနိုင်ငံတွင် National Energy Puma Aviation Services Co., Ltd. တည်ထောင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် စွမ်းအင် ဝန်ကြီးဌာနပိုင် သန်လျင်မြို့နယ်၊ အမှတ်(၁) သန်လျင်ရေနံချက်စက်ရုံ၊ ပို့ဆောင်ရေးဝန်ကြီးဌာနပိုင် မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်အပြည်ပြည်ဆိုင်ရာ လေဆိပ်ဝင်းအတွင်းနှင့် ကာကွယ်ရေးဝန်ကြီးဌာနပိုင် မင်္ဂလာဒုံမြို့နယ်၊ လေတပ်အခြေစိုက်စခန်း (မင်္ဂလာဒုံ) အဝင်လမ်းနှင့် ကြံခင်းစုလမ်းထောင့်တို့တွင် လေယာဉ်ဆီ တင်သွင်း၊ သိုလှောင်၊ ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုနိုင်ပါရန် ယာယီခွင့်ပြုမိန့်ထုတ်ပေးနိုင်ပါရန် သဘောတူ-မတူ လမ်းညွှန်မှုခံယူအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(ချိုချိုဝင်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို

ရုံးလက်ခံ/ မျှောစာတွဲ

နောက်ဆက်တွဲ (က)


ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

**အဆိုပြုချက်စိစစ်ရေးအဖွဲ့**

တယ်လီဖုန်း-၉၅-၁-၆၅၈၁၃၀

ဖက်(စ်) ၉၅-၁-၆၅၈၁၄၂


စာအမှတ်၊ ရက- ၅(စ)/၀၁၃/၂၀၁၅(၂၅၈ )

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဩဂုတ်လ ၂၀ ရက်

သို့

**ပြည်ထောင်စုဝန်ကြီးရုံး**

**စွမ်းအင်ဝန်ကြီးဌာန**

အကြောင်းအရာ။ **စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံထွက်ပစ္စည်း ရောင်းဝယ်ရေးလုပ်ငန်းနှင့် စင်ကာပူနိုင်ငံ Puma Energy Group Pte. Ltd. တို့သည် မြန်မာနိုင်ငံတွင် National Energy Puma Aviation Services Co., Ltd. တည်ထောင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် လေယာဉ်ဆီ တင်သွင်း၊ သိုလှောင်၊ ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

ရည်ညွှန်းချက် ။ စွမ်းအင်ဝန်ကြီးဌာန ၏ ၂၄-၇-၂၀၁၅ ရက်စွဲပါစာအမှတ်၊ မူဝါဒ-ဥပဒေ-လုပ်ငန်းစစ်/ ၀၁(၂၂၅/၂၀၁၅)

၁။ National Energy Puma Aviation Services Co., Ltd. ၏ ရည်ညွှန်းပါစာဖြင့် အဆိုပြု တင်ပြခြင်းကို ၂၀၁၅ ခုနှစ် ဩဂုတ်လ ၁၀ ရက်နေ့တွင် ကျင်းပသည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၂၈/၂၀၁၅) ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ရာ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်-

> "လုပ်ငန်းဆောင်ရွက်မည့် မြေနေရာများအတွက် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ အကြောင်းပြန်ကြားစာကိုရရှိပြီးမှ ဆက်လက်ဆောင်ရွက်ရန်"

၂။ သို့ပါ၍ အထက်စာပိုဒ်ပါ အစည်းအဝေးဆုံးဖြတ်ချက်အား သိရှိပြီး ဆက်လက်ဆောင်ရွက်နိုင် ရန် အကြောင်းကြားအပ်ပါသည်။

(အောင်နိုင်ဦး)

အဖွဲ့ခေါင်းဆောင်

မိတ္တူ

ဦးဆောင်ညွှန်ကြားရေးမှူး

မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်း

National Energy Puma Aviation Services Co., Ltd.

ရုံးလက်ခံ/မျှောစာတွဲ